မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

အမှုတွဲမှတ်တမ်း

**ကုမ္ပဏီအမည်** - Myanmar Shing Shing Metal Co., ltd.

**လုပ်ငန်းအမည်** - ခဲအောက်စိမ်းသတ္တုသန့်စင်ထုတ်လုပ်ခြင်းလုပ်ငန်း

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၁။ | ၂.၁၂.၂၀၁၉ | အမှုတွဲလက်ခံရရှိခြင်း | |
| ၂။ | ၁၇.၁၂.၂၀၁၉ | ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန (မွန်ပြည်နယ်) သို့ EIA သဘောထားမှတ်ချက်အား လက်ခံရရှိခြင်း | |
| ၃။ | ၁၈.၁၂.၂၀၁၉ | ကော်မတီမှ မွန်ပြည်နယ် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံခြင်း | |
| ၄။ | ၉.၁.၂၀၂၀ | ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန မှ သဘောထား ပြန်ကြားခြင်း | |
| ၅။ | ၁၀.၂.၂၀၂၀ | မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ အမှာစာတင်ပြခြင်း | |
| ၆။ | ၃.၂.၂၀၂၀ | အစည်းအဝေး ကျင်းပနိုင်ရန် ရက်သတ်မှတ်နိုင်ရေးအတွက် ဥက္ကဋ္ဌအား တင်ပြခြင်း | |
| ၇။ | ၁၀.၂.၂၀၂၀ | အစည်းအဝေး ဖိတ်ကြားခြင်း | |
| ၈။ | ၁၄.၂.၂၀၂၀ | အစည်းအဝေး ဖိတ်ကြားခြင်း | |
| ၉။ | ။ | company မှ ရှင်းလင်းခြင်း | |
| ၁၀။ | ၂၀.၂.၂၀၂၀ | Endoes နှင့် decision အပေါ် လက်မှတ်ထိုးရန်တင်ပြခြင်း | |
| ၁၁။ | ၂၀.၂.၂၀၂၀ | ဥက္ကဋ္ဌမှ Endoes နှင့် decision နှင့် လက်မှတ်ထိုး အတည်ပြုခြင်း | |
| ၁၂။ | ၂၁.၂.၂၀၂၀ | Company သို့ Endorsement နှင့် decision အား ထုတ်ပေးခြင်း | |
| ၁၃။ | ၂၁.၂.၂၀၂၀ | အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက်မိတ္တူများအား သက်ဆိုင်ရာ ဝန်ကြီးဌာနများသို့ မိတ္တူပေးပို့ခြင်း | |



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ
## အတည်ပြုမိန့်

**အတည်ပြုမိန့်အမှတ်** မပန- ၀၀၂/၂၀၂၀ ၂၀၂၀ ပြည့်နှစ် ဖေဖော်ဝါရီလ ၂၀ ရက်

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၅ (ဃ) အရ ဤအတည်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) **ရင်းနှီးမြှုပ်နှံသူအမည်** ဒေါ်ရတနာလင်းအောင်

(၂) **နိုင်ငံသား** မြန်မာ

(၃) **နေရပ်လိပ်စာ** အကွက်အမှတ် (၃၂၅-၃၃၀)၊ ရွှေမြို့တော်(၁) လမ်း၊ စက်မှုဇုံ၊ ညောင်ပင်ဆိပ်ရပ်ကွက်၊ မော်လမြိုင်မြို့

(၄) **ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ** -

(၅) **ဖွဲ့စည်းရာအရပ်** -

(၆) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** ခနောက်စိမ်းသတ္တုသန့်စင်ထုတ်လုပ်ခြင်းလုပ်ငန်း

(၇) **ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ (များ)** ကွင်းအမှတ် (၃၈၆)၊ ခရုံကရုတ်ကွင်း၊ ဦးပိုင်အမှတ် ( ၃၂၅၊ ၃၂၆၊ ၃၂၇၊ ၃၂၈၊ ၃၂၉၊ ၃၃၀)၊ ဦးပိုင်အမှတ် (၉၂က/၂)၊ ညောင်ပင်ဆိပ်ရပ်ကွက်၊ မော်လမြိုင်မြို့

(၈) **နိုင်ငံခြားမတည်ငွေရင်းပမာဏ** -

(၉) **နိုင်ငံခြားမတည်ငွေရင်း ယူဆောင်လာရမည့်ကာလ** -

(၁၀) **စုစုပေါင်းမတည်ငွေရင်းပမာဏ (ကျပ်)** ကျပ် ၈၀၀.၀၀၀ သန်း (ကျပ်ရှစ်ရာသန်းတိတိ )

(၁၁) **တည်ဆောက်မှု/ပြင်ဆင်မှုကာလ** -

(၁၂) **အတည်ပြုမိန့်သက်တမ်း** -

(၁၃) **ရင်းနှီးမြှုပ်နှံမှုပုံစံ** ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) **မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည်** မြန်မာရှင်းရှင်းမီတယ်လ် ကုမ္ပဏီလီမိတက်

(ဒေါက်တာအေးဇံ)

ဥက္ကဋ္ဌ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ**

မီးလောင်ပြင်လမ်း၊ မန္တလေးရပ်ကွက်၊ မော်လမြိုင်မြို့

တယ်လီဖုန်း - ၀၅၇-၂၀၂၃၃၉၅ စာအမှတ်၊ မရက/ ၄ /နသေ/ ၂၀၂၀ ( ၀၀၈ )

ဖက်စ် - ၀၅၇-၂၀၂၃၃၈၅ ရက်စွဲ၊၂၀၂၀ ပြည့်နှစ်၊ ဖေဖော်ဝါရီလ ၂၀ ရက်

အကြောင်းအရာ။ **Myanmar Shing Shing Metal Co.,Ltd. ( မြန်မာရှင်းရှင်းမီတယ်လ်ကုမ္ပဏီလီမိတက်) ၏ ခနောက်စိမ်းသတ္တုသန့်စင်ထုတ်လုပ်ခြင်းလုပ်ငန်း အတည်ပြုလျှောက်ထားလွှာ အပေါ် မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ **Myanmar Shing Shing Metal Co.,Ltd. ( မြန်မာရှင်းရှင်းမီတယ်လ်ကုမ္ပဏီလီမိတက် )** ၏၂၀၁၉ ခုနှစ် နိုဝင်ဘာလ ၂၈ ရက် နေ့စွဲပါတင်ပြစာ

၁။ **Myanmar Shing Shing Metal Co.,Ltd. ( မြန်မာရှင်းရှင်းမီတယ်လ်ကုမ္ပဏီလီမိတက်)** မှ မွန်ပြည်နယ်၊ မော်လမြိုင်မြို့၊ ညောင်ပင်ဆိပ်ရပ်ကွက်၊ ကွင်းအမှတ်(၃၈၆)၊ခရုံကရုတ်ကွင်း၊ ဦးပိုင်အမှတ် (၃၂၅၊ ၃၂၆၊ ၃၂၇၊ ၃၂၈၊ ၃၂၉၊ ၃၃၀) ရှိ မြေဧရိယာ (၁.၃၈) ဧက နှင့် ဦးပိုင်အမှတ် (၉၂က/၂) ရှိမြေ (၂.၃၀) ဧက၊ စုစုပေါင်းမြေ ၃.၆၈ ဧက တွင် **ခနောက်စိမ်းသတ္တုသန့်စင် ထုတ်လုပ်ခြင်းလုပ်ငန်းအား** မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာတင်ပြခြင်း နှင့်ပတ်သက်ပြီး ၂၀၂၀ ပြည့်နှစ်၊ ဖေဖော်ဝါရီလ ၁၄ ရက် နေ့ တွင် ကျင်းပပြုလုပ်သော မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၁/၂၀၂၀) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာခွင့်ပြုကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေကို ကျင့်သုံးလျက် **Myanmar Shing Shing Metal Co.,Ltd. ( မြန်မာရှင်းရှင်းမီတယ်လ်ကုမ္ပဏီလီမိတက်)** အား **ခနောက်စိမ်းသတ္တုသန့်စင်ထုတ်လုပ်ခြင်းလုပ်ငန်းအား** ဆောင်ရွက်နိုင်ရန် အတွက် အတည်ပြုမိန့်အမှတ်၊ မပန- ၀၀၂ /၂၀၂၀ ကို ထုတ်ပေးလိုက်သည်။

၂။ **Myanmar Shing Shing Metal Co.,Ltd. ( မြန်မာရှင်းရှင်းမီတယ်လ်ကုမ္ပဏီလီမိတက်)** အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် တစ်ဘက်ပါ အချက်များကို လိုက်နာ ဆောင်ရွက်ရမည် -

(က) **Myanmar Shing Shing Metal Co.,Ltd. ( မြန်မာရှင်းရှင်းမီတယ်လ်ကုမ္ပဏီ လီမိတက်)** သည် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များအဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

(ခ) **Myanmar Shing Shing Metal Co.,Ltd. ( မြန်မာရှင်းရှင်းမီတယ်လ်ကုမ္ပဏီ လီမိတက်)** အနေဖြင့် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုဥပဒေ ပုဒ်မ ၆၅ နှင့် နည်းဥပဒေ အခန်း (၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရား များနှင့်အညီ လိုက်နာဆောင်ရွက် ရမည်။

(ဂ) **Myanmar Shing Shing Metal Co.,Ltd. ( မြန်မာရှင်းရှင်းမီတယ်လ်ကုမ္ပဏီ လီမိတက်)** သည် လုပ်ငန်းဆောင်ရွက်ရာတွင် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဃ) **Myanmar Shing Shing Metal Co.,Ltd. ( မြန်မာရှင်းရှင်းမီတယ်လ်ကုမ္ပဏီ လီမိတက်)** သည် လုပ်ငန်းဆောင်ရွက်ရာတွင် မီးဘေးအန္တရာယ်မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့်မီးဘေးအန္တရာယ်ထိန်းသိမ်း ကာကွယ်ရေးစနစ်များကို ဝန်ခံ ကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ် ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ နှင့်အမိန့် များ ကို တိကျစွာလိုက်နာ ဆောင်ရွက် ရမည်။

(င) **Myanmar Shing Shing Metal Co.,Ltd. ( မြန်မာရှင်းရှင်းမီတယ်လ်ကုမ္ပဏီ လီမိတက်)** သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်း သက်တမ်းကာလ အတွင်း အခြား ပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်း ခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(စ) **Myanmar Shing Shing Metal Co.,Ltd. ( မြန်မာရှင်းရှင်းမီတယ်လ်ကုမ္ပဏီ လီမိတက်)** သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ နှစ်စဉ် ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်

များပါရှိသည့် နှစ်စဉ် အစီရင်ခံစာအား သတ်မှတ် ပုံစံဖြင့်ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်ဆိုဒ် သို့ တင်ပြ ရမည်။

(ဆ) **Myanmar Shing Shing Metal Co.,Ltd. ( မြန်မာရှင်းရှင်းမီတယ်လ်ကုမ္ပဏီလီမိတက်)** သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ၁၉၇အရ လုပ်ငန်းဆောင်ရွက် နေစဉ် အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင်တစ်ကြိမ် ကော်မရှင်ကသတ်မှတ် တောင်းခံသည့်ပုံစံ ဖြင့် တင်ပြရမည်။

၃။ **Myanmar Shing Shing Metal Co.,Ltd. ( မြန်မာရှင်းရှင်းမီတယ်လ်ကုမ္ပဏီလီမိတက်)** အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၆၅(ဃ) အရ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာ ဌာန၏ သတ်မှတ်ချက် များနှင့်အညီ ဆောင်ရွက်ရမည်။

၄။ **Myanmar Shing Shing Metal Co.,Ltd. ( မြန်မာရှင်းရှင်းမီတယ်လ်ကုမ္ပဏီလီမိတက် )** သည် လုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရ ဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ၊ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့်အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ် လျှင်သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီးမိတ္တူ(၅)စုံစီအား ကော်မတီသို့ ပေးပို့ရမည်။

(ဒေါက်တာအေးဖုံ)
ဥက္ကဋ္ဌ

**Myanmar Shing Shing Metal Co.,Ltd. ( မြန်မာရှင်းရှင်းမီတယ်လ်ကုမ္ပဏီလီမိတက် )**

**ဖြန့်ဝေခြင်း**
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
ပြည်ထဲရေးဝန်ကြီးဌာန
စီမံကိန်း၊ ဘဏ္ဍာရေး နှင့် စက်မှုဝန်ကြီးဌာန
ရင်းနှီးမြှုပ်နှံမှုနှင့် နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မော်လမြိုင်မြို့
ညွှန်ကြားရေးမှူးချုပ်၊ သတ္တုတွင်းဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန




ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်
ရင်းနှီးမြှုပ်နှံမှုနှင့်နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

## ငွေလက်ခံရန်အကြောင်းကြားစာ

အမှတ်စဉ်

ရက်စွဲ၊ ၂၀၂၀ ခုနှစ်၊ ဖေဖော်ဝါရီ လ ၁၄ ရက်

အောက်ဖော်ပြပါ လျှောက်ထားသူထံမှ သက်ဆိုင်ရာလျှောက်ထားလွှာအတွက် ဖော်ပြပါ ဝန်ဆောင်ခအား လက်ခံပါရန်နှင့် ငွေရပြေစာမိတ္တူတစ်စောင်ကို ဌာနခွဲသို့ ပေးပို့ပေးပါရန် အကြောင်း ကြားအပ်ပါသည်-

၁။ **လျှောက်ထားသူ၏ -**

(က) အမည် ........ဒေါ်ဂုဏနာလင်းအောင်........

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ...၉/မကန(နိုင်)၁၁၆၉၂၈...

(ဂ) နေရပ်လိပ်စာ/ တယ်လီဖုန်း ........အကွက်အမှတ် (၃၂၅-၃၃၀)၊ ရွှေမြို့တော်(၁၁)လမ်း၊
........စက်မှုဇုန်၊ ရှောင်ပင်ဆိပ်ကမ်းကွက်၊ မော်လမြိုင်မြို့........

၂။ **ရင်းနှီးမြှုပ်နှံသူ၏ -**

(က) အမည် ........ဒေါ်ဂုဏနာလင်းအောင်........

(ခ) ကုမ္ပဏီအမည် ........Myanmar Shing Shing Metal Co.,Ltd........

(ဂ) လုပ်ငန်းအမျိုးအစား ........ခနောက်စိမ်းသတ္တုသန့်စင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း........

........

........

၃။ ပေးသွင်းမည့်ဝန်ဆောင်ခနှင့်စပ်လျဉ်း၍-

(က) လျှောက်ထားလွှာ ပုံစံအမှတ် ........၅(ခ)........

(ခ) ဝန်ဆောင်ခနှုန်းထား(ဂဏန်းဖြင့်) ကျပ် ........၅၀၀၀၀/-........

(စာဖြင့်) ကျပ် ........ငါးသောင်းတိတိ........

(ဂ) ငွေအမျိုးအစား

........၁၀၀၀၀ x ၅........ ........၅၀၀၀၀/-........

........ ........

**(မင်းသိန်းဦး)**
**လက်ထောက်ညွှန်ကြားရေးမှူး**
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
မြည်နယ်ဦးစီးမှူး ရုံး၊ မွန်ပြည်နယ်၊

----၅၀၀၀၀/-------- ကျပ် (-------------ငါးသောင်း------------- ကျပ် တိတိ)ကို လက်ခံရရှိပါသည်။

ငွေစာရင်းဌာနခွဲ
**(မင်းသိန်းဦး)**
**လက်ထောက်ညွှန်ကြားရေးမှူး၊**
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ပြည်နယ်ဦးစီးမှူး ရုံး၊ မွန်ပြည်နယ်၊

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ**

**အစည်းအဝေးအမှတ်စဉ် ( ၁/၂၀၂၀ )**

# အစည်းအဝေးအစီအစဉ်

၁။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီဥက္ကဋ္ဌမှ အမှာစကားပြောကြားခြင်း၊

၂။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၃ /၂၀၁၉)ကြိမ်မြောက်အစည်းအဝေးမှတ်တမ်းအား အတည်ပြုမှတ်တမ်းတင်ခြင်း၊

၃။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၃ /၂၀၁၉) ကြိမ်မြောက်အစည်းအဝေးဆုံးဖြတ်ချက်များအရ အတည်ပြုမိန့်များ ထုတ်ပေးခဲ့ခြင်းအပေါ် မှတ်တမ်းတင်ခြင်း၊

**၄။ အတည်ပြုလျှောက်ထားလွှာတင်ပြလာမှုများအား အတည်ပြုမိန့်ထုတ်ပေးနိုင်ရေးအတွက် ဆွေးနွေးဆုံးဖြတ်ခြင်း-**

(က) Tiwa Company Limited ၏ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စွန့်ပစ်အမှိုက်မှ လျှပ်စစ်ဓါတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(ခ) Myanmar Shing Shing Metal Company Limited ၏ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ခနောက်စိမ်းသတ္တုသန့်စင်ထုတ်လုပ်ခြင်းလုပ်ငန်း ( လုပ်ငန်းဟောင်း )

၅။ ဥက္ကဋ္ဌမှ နိဂုံးချုပ်ပြောကြားခြင်း၊

၆။ အစည်းအဝေး ပြီးဆုံးခြင်း ။





**၂၀၂၀ ပြည့်နှစ် ဖေဖော်ဝါရီလ ၁၄ ရက်(သောကြာနေ့) မွန်းလွဲ (၁၄:၀၀)နာရီအချိန် မွန်ပြည်နယ် အစိုးရအဖွဲ့ရုံး အစည်းအဝေးခန်း၌ ကျင်းပပြုလုပ်သော မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ (၁/၂၀၂၀) အစည်းအဝေးမှတ်တမ်း**

**အစည်းအဝေးတက်ရောက်ကြသူများ**

၁။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီမှ အောက်ဖော်ပြပါ ပုဂ္ဂိုလ်များအစည်းအဝေး တက်ရောက်ကြပါသည်-

| | |
|---|---|
| (က) ဒေါက်တာအေးဇံ<br>မွန်ပြည်နယ်ဝန်ကြီးချုပ် | ဥက္ကဋ္ဌ<br>မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ |
| (ခ) ဦးဝဏ္ဏကျော်<br>ပြည်နယ်စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီး | အဖွဲ့ဝင်<br>မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ |
| (ဂ) ဦးတင်ညို<br>ပြည်နယ်ဦးစီးမှူး<br>စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေး<br>ဦးစီးဌာန | အဖွဲ့ဝင်<br>မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ |
| (ဃ) ဦးအောင်အောင်လေး<br>ပြည်နယ်ဦးစီးမှူး<br>ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန | အဖွဲ့ဝင်<br>မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ |
| (င) ဦးဝင်းဘို<br>ပြည်နယ်လျှပ်စစ်အင်ဂျင်နီယာမှူး<br>လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေးလုပ်ငန်း | အဖွဲ့ဝင်<br>မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ |

၂။ သီးခြားဖိတ်ကြားထားသည့် အောက်ပါပုဂ္ဂိုလ်များ အစည်းအဝေးတက်ရောက်ကြပါသည်-

| | |
|---|---|
| (က) ဦးစိုးသီဟ၊<br>အုပ်ချုပ်မှုဒါရိုက်တာ | Thiwa Co.,Ltd. |
| (ခ) ဒေါ်ရတနာလင်းအောင်၊<br>အုပ်ချုပ်မှုဒါရိုက်တာ | Myanmar Shing Shing Metal Co.,Ltd. |

**အစည်းအဝေးမတက်ရောက်နိုင်သူများ**

၃။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီအဖွဲ့ဝင်၊ မွန်ပြည်နယ်အစိုးရအဖွဲ့ အတွင်းရေးမှူး ဦးလှဝင်းတင် သည် တာဝန်အရ အစည်းအဝေးတက်ရောက်နိုင်ခြင်း မရှိပါ။

၄။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီအတွင်းရေးမှူး ဦးမြင့်လွင်သည် အငြိမ်းစားမယူမီ ကြိုတင်ပြင်ဆင်ခွင့်ခံစားနေသည့်အတွက် အစည်းအဝေးတက်ရောက်နိုင်ခြင်းမရှိပါ။

**ရည်ရွယ်ချက်**

၅။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၃/၂၀၁၉) အစည်းအဝေးမှတ်တမ်းနှင့် အတည်ပြု မိန့်များ ထုတ်ပေးမှုအားမှတ်တမ်းတင်ရန်၊ အတည်ပြုလျှောက်ထားလွှာများတင်ပြလာသော Thiwa Co.,Ltd. ၏ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဖြင့် ရေးမြို့နယ်၊ ကော့လှိုင်ကျေးရွာတွင် စွန့်ပစ်အမှိုက်မှ လျှပ်စစ်ဓါတ်အားထုတ်လုပ် ဖြန့်ဖြူးခြင်းလုပ်ငန်းနှင့် Myanmar Shing Shing Metal Co.,Ltd. ၏ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဖြင့် မော်လမြိုင်မြို့နယ်၊ ညောင်ပင်ဆိပ်ရပ်ကွက်တွင် ခနောက်စိမ်းသတ္တု သန့်စင်ထုတ်လုပ်ခြင်းလုပ်ငန်းများအား အတည်ပြု မိန့် ထုတ်ပေးနိုင်ရေး ဆွေးနွေးဆုံးဖြတ်ရန်။

**ဆွေးနွေးချက်များ**

၆။ မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှု ဦးစီး ဌာန ဒုတိယညွှန်ကြားရေးမှူး ဦးစောလင်းအောင်က ယခင်မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှု ကော်မတီ အစည်းအဝေး (၃/၂၀၁၉)တွင် ဆွေးနွေးဆုံးဖြတ်ခဲ့သော အစည်းအဝေးမှတ်တမ်းနှင့် ယင်းအစည်း အဝေး ဆုံးဖြတ်ချက်များအရ အတည်ပြုမိန့်များ ထုတ်ပေးခဲ့ခြင်းအပေါ် မှတ်တမ်းတင်နိုင်ရေး အတွက် ဆွေးနွေးတင်ပြပါသည်။

၇။ ယင်းနောက် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန် ကြားမှုဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူးက မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ အတည်ပြု လျှောက်ထားလွှာတင်ပြလာသော Thiwa Co.,Ltd. ၏ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စွန့်ပစ် အမှိုက်မှလျှပ်စစ်ဓါတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းနှင့် Myanmar Shing Shing Metal Co.,Ltd.၏ ခနောက်စိမ်းသတ္တုသန့်စင်ထုတ်လုပ်ခြင်းလုပ်ငန်းတို့အား အတည်ပြုမိန့်ထုတ်ပေးနိုင် ရေး ဆွေးနွေးဆုံးဖြတ်ပေးရန် တင်ပြပါသည်။

၈။ Thiwa Co.,Ltd. မှ အုပ်ချုပ်မှုဒါရိုက်တာဦးစိုးသီဟက မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကော့လှိုင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်-၁၁၉၇/က၊ ခမင်းဆိပ်ကွင်း မြေကွက်အမှတ်-၁/၄၉၈ + ၄/၄၉၉ ရှိ ဧရိယာ (၁၀.၅၈) ဧကနှင့် ကွင်းအမှတ်-၁၁၉၅၊ ဘဲအဖျဲအနောက်ကွင်း၊ မြေကွက်အမှတ်-၁၃၁၇/၁၅၀၁+ ၁၃၁၈/၁၅၀၂ ရှိ ဧရိယာ (၅.၁၇) ဧက စုစုပေါင်းမြေဧရိယာ (၁၅.၇၅) ဧကတွင် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စွန့်ပစ်အမှိုက်မှလျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်မည့်အခြေအနေများ၊ လုပ်ငန်းတည်ဆောက်ပြီးစီးမှုအခြေအနေများ၊ ဓါတ်အားဖြန့်ဖြူးနိုင်မည့် အခြေအနေ၊ ဒေသခံဝန်ထမ်း (၅၅) ဦး အလုပ်ခန့်ထားနိုင်မည့်အခြေအနေနှင့် ကုမ္ပဏီ၏ CSR ဆောင်ရွက် မည့် အစီအစဉ်များကို ရှင်းလင်းတင်ပြ ပါသည်။

၉။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီဥက္ကဋ္ဌ၊ မွန်ပြည်နယ်ဝန်ကြီးချုပ်က Thiwa Co.,Ltd ၏ လျှပ်စစ်ဓါတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းနှင့်ပတ်သက်ပြီး စွန့်ပစ်အမှိုက်နှင့်ပတ်သက်သည့် အစီအမံများ၊ နည်းပညာရရှိမှုအခြေအနေ၊ လမ်းဖောက်လုပ်ပြီးစီးမှုအခြေအနေ၊ EMP, IEE ရေးဆွဲမည့်အခြေအနေများအား မေးမြန်းဆွေးနွေးပါသည်။

၁၀။ Thiwa Co.,Ltd. ၏ အုပ်ချုပ်မှုဒါရိုက်တာက EMP ရေးဆွဲမှုကို ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ လမ်းညွှန်ချက်နှင့်အညီ ရေးဆွဲနေပြီဖြစ်ကြောင်း၊ စွန့်ပစ်အမှိုက်မှ ဓါတ်အားထုတ်လုပ်ခြင်း ဖြစ်သည့်အတွက် ပတ်ဝန်းကျင်ထိန်းသိမ်းမှုကို အားပေးခြင်း ဖြစ်ပါကြောင်း၊ နည်းပညာမှာ အမေရိကန်နည်းပညာဖြစ်ကြောင်း ပြန်လည်ရှင်းလင်း ဆွေးနွေး တင်ပြပါသည်။

၁၁။ ယင်းနောက် Myanmar Shing Shing Metal Co.,Ltd.မှ အုပ်ချုပ်မှုဒါရိုက်တာ ဒေါ်ရတနာလင်းအောင်က မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မော်လမြိုင်မြို့နယ်၊ ညောင်ပင်ဆိပ်ရပ်ကွက်၊ ဦးပိုင်အမှတ် (၃၂၅+၃၂၆+၃၂၇+၃၂၈+၃၂၉+၃၃၀) ရှိ မြေဧရိယာ (၁.၃၈) ဧက နှင့် ဦးပိုင်အမှတ် (၉၂-က/၂)၊ အကွက်အမှတ် (၃၈၆) ခရုံကရုတ်ကွင်းရှိမြေ (၂.၃၀) ဧက၊ စုစုပေါင်း (၃.၆၈)ဧကတွင် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ခနောက်စိမ်းသတ္တုသန့်စင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နေမှုအခြေအနေများကို ရှင်းလင်းတင်ပြပါသည်။

၁၂။ ဆက်လက်ပြီး အုပ်ချုပ်မှုဒါရိုက်တာက လုပ်ငန်းမှာလည်ပတ်ဆောင်ရွက်နေသောလုပ်ငန်းဖြစ်သော်လည်း လုပ်ငန်းတိုးချဲ့သည့်အခါ လိုအပ်သည့်စက်ပစ္စည်းများအား အခွန်ကင်းလွတ်သက်သာခွင့်ရရှိနိုင်ရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၏ အကာအကွယ်၊ အထောက်အပံ့ခံယူလိုသည့် အတွက်ကြောင့်လည်းကောင်း အတည်ပြုလျှောက်ထားလွှာ တင်ပြရခြင်း ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန (ရုံးချုပ်) သို့ EIA report ရေးဆွဲတင်ပြခဲ့ရာ

ထုတ်လုပ်မှုပမာဏအရ EIA ရေးဆွဲရန်မလိုအပ်ဘဲ IEE သာ ရေးဆွဲရန်လိုအပ်ကြောင်း ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန (ရုံးချုပ်)မှ ညွှန်ကြားခဲ့သဖြင့် IEE ရေးဆွဲဆောင်ရွက်နေပြီ ဖြစ်ပါကြောင်း ရှင်းလင်းတင်ပြပါသည်။

၁၃။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီဥက္ကဋ္ဌ၊ မွန်ပြည်နယ်ဝန်ကြီးချုပ်က IEE ကို အမြန်ဆုံး ရေးဆွဲစေလိုကြောင်း၊ သက်ဆိုင်ရာလွှတ်တော်ကိုယ်စားလှယ်များကလည်း EIA , IEE ရှိ/မရှိ မေးမြန်းကြမည်ဖြစ်ကြောင်း၊ ထို့ကြောင့် IEE ကို စနစ်တကျ မြန်မြန်ဆန်ဆန်ရေးဆွဲစေလိုကြောင်း ပြောကြားပြီး၊ IEE ရေးဆွဲပြီးစီးနိုင်မည့်ရက်၊ ဓါတုပစ္စည်းအသုံးပြုမှုအခြေအနေ၊ မီးခိုးခေါင်းတိုင် အရွယ်အစားနှင့် လေထုထဲသို့ အခိုးအငွေ့ထုတ်လွှတ်မှု အခြေအနေ၊ CSR ဆောင်ရွက်မှု အခြေအနေ များကို မေးမြန်းဆွေးနွေးပါသည်။

၁၄။ ကုမ္ပဏီအုပ်ချုပ်မှုဒါရိုက်တာက မီးခိုးခေါင်းတိုင်ကို ယခင်ပေ ၈၀ ရှိရာမှ ယခုပေ ၁၁၀ သို့ မြှင့်တင်ထားကြောင်း၊ အခိုးအငွေ့သန့်စင်ထိန်းချုပ်ကိရိယာ Wet Scrubbers တပ်ဆင်ထားကြောင်း၊ သို့ဖြစ်ရာ လေထုထဲသို့ သန့်စင်ပြီးသော Flue Gases များသာ ထုတ်လွှတ်ကြောင်း၊ ယင်းအတွက် ဓါတ်ကူပစ္စည်းဖြစ်သော ထုံး၊ ကော့စတစ်ဆိုဒါများ ထည့်သွင်းအသုံးပြုပါကြောင်း ရှင်းလင်းပြော ကြားပြီး CSR ဆောင်ရွက်ခဲ့မှုများအပေါ် ရှင်းလင်းတင်ပြပါသည်။

၁၅။ မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ဦးအောင်အောင်လေးက အဆိုပါ လုပ်ငန်းနှင့်ပတ်သက်၍ လေထုသန့်စင်မှုအခြေအနေ တိုင်းတာမှုအားနှစ်ပတ်တစ်ခါ ဆောင်ရွက် ကြောင်း၊ ကုမ္ပဏီအနေဖြင့် wet scrubber အတွက်ပုံမှန်ထည့်ရမည့်ပစ္စည်းများပုံမှန်ထည့်သွင်းရန်၊ ပုံမှန်သန့်ရှင်းရေးဆောင်ရွက်ရန်၊ maintenance လုပ်ရန်ညွှန်ကြားထားကြောင်း၊ ပုံမှန်သန့်ရှင်းရေး မလုပ်ပါက Function ကျသွားမည်ဖြစ်ပါကြောင်း အခိုးအငွေ့ထုတ်လွှတ်နေမှုအားပုံမှန်တိုင်းတာရန်၊ မှတ်တမ်းထားရှိရန်၊ တိုင်းတာမှုရလဒ်များအား ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန သို့ အပတ်စဉ် တင်ပြရန် ညွှန်ကြားထားကြောင်း ရှင်းလင်းဆွေးနွေးပါသည်။

၁၆။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီဥက္ကဋ္ဌ၊ မွန်ပြည်နယ်ဝန်ကြီးချုပ်က CSR ဆောင်ရွက်မှု နှင့်ပတ်သက်ပြီး မဆောင်ရွက်မီ မွန်ပြည်နယ်အစိုးရအဖွဲ့သို့ ကြိုတင်တင်ပြရန်ဖြစ်ကြောင်း၊ သို့မှသာ CSR စာရင်းဝင်မည်ဖြစ်ကြောင်း ဆွေးနွေးမှာကြားပါသည်။

**ဆုံးဖြတ်ချက်**

၁၇။ အောက်ပါအတိုင်း ဆောင်ရွက်ရန် ဆုံးဖြတ်ကြပါသည်-

| စဉ် | အကြောင်းအရာ | ဆောင်ရွက်ရန် |
|---|---|---|
| (က) | မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီအစည်းအဝေး (၃/၂၀၁၉) တွင်ဆွေးနွေးဆုံးဖြတ်ခဲ့သောအစည်းအဝေး မှတ်တမ်းနှင့်ယှဉ်းအစည်းအဝေး ဆုံးဖြတ်ချက်များ အရ အတည်ပြုမိန့်များထုတ်ပေးခဲ့ခြင်းအပေါ် မှတ်တမ်းတင်ရန်။ | မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှု ကော်မတီဝင်များ၊ |
| (ခ) | Thiwa Co.,Ltd. ၏ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကော့လှိုင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်- ၁၁၉၇/က၊ ဓမင်းဆိပ်ကွင်း မြေကွက်အမှတ်- ၁/၄၉၈+ ၄/၄၉၉ ရှိ ဧရိယာ (၁၀.၅၈) ဧကနှင့် ကွင်းအမှတ်- ၁၁၉၅၊ ဘဲအဖျဲအနောက်ကွင်း၊ မြေကွက်အမှတ်- ၁၃၁၇/၁၅၀၁+ ၁၃၁၈/၁၅၀၂ ရှိ ဧရိယာ (၅.၁၇) ဧက စုစုပေါင်းမြေဧရိယာ (၁၅.၇၅) တွင် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် စွန့်ပစ်အမှိုက်မှလျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအားခွင့်ပြုရန်နှင့် အတည်ပြုမိန့်ထုတ်ပေးရန်။ | မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှု ကော်မတီရုံး |
| (ဂ) | Myanmar Shing Shing Metal Co.,Ltd.၏ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မော်လမြိုင်မြို့နယ်၊ ညောင်ပင်ဆိပ်ရပ်ကွက်၊ ဦးပိုင်အမှတ် (၃၂၅+၃၂၆+ ၃၂၇+၃၂၈+၃၂၉+၃၃၀) ရှိ မြေဧရိယာ (၁.၃၈) ဧက နှင့် ဦးပိုင်အမှတ် (၉၂-က/၂)၊ အကွက်အမှတ် (၃၈၆) ခရုံကရုတ်ကွင်းရှိမြေ (၂.၃၀) ဧက၊ စုစုပေါင်း (၃.၆၈) ဧကတွင် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ခနောက်စိမ်းသတ္တုသန့်စင်ထုတ်လုပ်ခြင်းလုပ်ငန်း အား ခွင့်ပြုရန်နှင့် အတည်ပြုမိန့်ထုတ်ပေးရန်။ | မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှု ကော်မတီရုံး |

**အစည်းအဝေးပြီးဆုံးခြင်း**

၁၈။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီအစည်းအဝေး (၁/၂၀၂၀)အား (၁၄:၄၀)နာရီတွင် ပြီးဆုံးပါသည်။

မှတ်တမ်းတင်သူ

စောလင်းအောင်

ဒုတိယညွှန်ကြားရေးမှူး

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီရုံး

စာအမှတ်၊ မရက/၆/ အစည်းအဝေး/ ၂၀၂၀ ( ၀၀၅ )

ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ်၊ ဖေဖော်ဝါရီလ ၁၈ ရက်

**ဖြန့်ဝေခြင်း**

ကော်မတီဝင်များအားလုံး

မိတ္တူကို

မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မော်လမြိုင်မြို့

မျှောစာတွဲ/ ရုံးလက်ခံ

(၁၄-၂-၂၀၂၀) ရက်နေ့(သောကြာနေ့)၊ မွန်းလွဲ (၁၄း၀၀)နာရီအချိန်၊ မွန်ပြည်နယ်အစိုးရအဖွဲ့ရုံးအစည်းအဝေးခန်းမ၌ ကျင်းပပြုလုပ်သော မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၁/၂၀၂၀) ကြိမ်မြောက် အစည်းအဝေးသို့ တက်ရောက်သူများ လက်မှတ်ရေးထိုးခြင်းမှတ်တမ်း

| စဉ် | အမည် | ရာထူး | ဌာန | လက်မှတ် |
|---|---|---|---|---|
| ၁ | ဒေါက်တာအေးဇံ | ဝန်ကြီးချုပ် | မွန်ပြည်နယ်အစိုးရအဖွဲ့ | |
| ၂ | ဦးဝဏ္ဏကျော် | ပြည်နယ်ဝန်ကြီး | ပြည်နယ်စီမံ/ဘဏ္ဍာဝန်ကြီး | |
| ၃ | ဦးလှဝင်းတင် | အတွင်းရေးမှူး | မွန်ပြည်နယ်အစိုးရအဖွဲ့ | |
| ၄ | ဦးတင်ညို | ညွှန်ကြားရေးမှူး | ပြည်နယ်စက်မှုကြီးကြပ် | |
| ၅ | ဦးအောင်အောင်လေး | ညွှန်ကြားရေးမှူး | ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေး | |
| ၆ | ဦးဝင်းဘို | ပြည်နယ်လျှပ်စစ်အင်ဂျင်နီယာ | ပြည်နယ်လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေး | |
| ၇ | ~~ဦး[illegible]~~ ဦး[illegible] | ပြည်နယ်ဦးစီးမှူး ([illegible]) | ရင်းနှီး/ကုမ္ပဏီဦးစီးဌာန | |
| ၈ | | | | |
| ၉ | | | | |




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ**

မီးလောင်ပြင်လမ်း၊ မန္တလေးရပ်ကွက်၊ မော်လမြိုင်မြို့

တယ်လီဖုန်း- ၀၅၇-၂၀၂၃၃၉၅

ဖက်(စ်) - ၀၅၇-၂၀၂၃၃၈၅

စာအမှတ်၊မရက/၆/အစည်းအဝေး/၂၀၂၀ ( ၀၀၄ )

ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ် ၊ ဖေဖော်ဝါရီ လ ၁၀ ရက်

အကြောင်းအရာ။ **အစည်းအဝေးဖိတ်ကြားခြင်း**

၁။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏( ၁ /၂၀၂၀) ကြိမ်မြောက်အစည်းအဝေးကို အောက်ပါ အစီအစဉ်အတိုင်းကျင်းပပြုလုပ်မည်ဖြစ်ပါ၍ ကြွရောက်ပါရန် ဖိတ်ကြားအပ်ပါသည် -

(က) ကျင်းပမည့် နေ့ရက် - ၁၄ - ၂ -၂၀၂၀ (သောကြာနေ့)

(ခ) ကျင်းပမည့် အချိန် - ၁၃:၀၀ နာရီ

(ဂ) ကျင်းပမည့် နေရာ - မွန်ပြည်နယ်အစိုးရအဖွဲ့ရုံးအစည်းအဝေးခန်း

၂။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီဝင်များအားလုံး **မပျက်မကွက်** တက်ရောက်ပေးပါရန် မေတ္တာရပ်ခံလျက် အစည်းအဝေးအစီအစဉ်နှင့်အမှာစာများအား ပူးတွဲပေးပို့အပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)

(စောလင်းအောင်၊ ဒုတိယညွှန်ကြားရေးမှူး)

**ဖြန့်ဝေခြင်း**

ဒေါက်တာအေးဇံ (မွန်ပြည်နယ်ဝန်ကြီးချုပ်)

ဥက္ကဋ္ဌ
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ဦးဝဏ္ဏကျော် (မွန်ပြည်နယ်စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီး)

အဖွဲ့ဝင်

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

Committee invitation

ဦးလှဝင်းတင် (အတွင်းရေးမှူး၊ မွန်ပြည်နယ်အစိုးရအဖွဲ့)
အဖွဲ့ဝင်
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ဦးတင်ညို (ညွှန်ကြားရေးမှူး၊ မွန်ပြည်နယ်စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန)
အဖွဲ့ဝင်
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ဦးအောင်အောင်လေး (ညွှန်ကြားရေးမှူး၊ မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန)
အဖွဲ့ဝင်
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ဦးဝင်းဘို (ပြည်နယ်လျှပ်စစ်အင်ဂျင်နီယာ၊ မွန်ပြည်နယ်လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေးလုပ်ငန်း)
အဖွဲ့ဝင်
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ဦးမြင့်လွင် (ပြည်နယ်ဦးစီးဌာနမှူး၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန)
အတွင်းရေးမှူး
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

မိတ္တူကို

မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မော်လမြိုင်မြို့
Thiwa Co.,Ltd.
Myanmar Shing Shing Metal Co.,Ltd.
ရုံးလက်ခံ
မျှောစာတွဲ




**ကန့် သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ**

မီးလောင်ပြင်လမ်း၊ မန္တလေးရပ်ကွက်၊ မော်လမြိုင်မြို့

တယ်လီဖုန်း- ၀၅၇-၂၀၂၃၃၉၅

ဖက်(စ်) - ၀၅၇-၂၀၂၃၃၈၅

စာအမှတ်၊ မရက / ၁ / နသေ / ၂၀၂၀ (၀၀၃ )

ရက်စွဲ၊ ၂၀၂၀ပြည့်နှစ်၊ ဖေဖော်ဝါရီ လ ၁၀ ရက်

**မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Myanmar Shing Shing Metal Co.,Ltd. ၏ စီးပွားဖြစ်ဆောင်ရွက်လျက်ရှိပြီး ဝင်ငွေရရှိနေသော ခနောက်စိမ်းသတ္တုသန့်စင်ထုတ်လုပ်ခြင်းလုပ်ငန်း အား အတည်ပြု လျှောက်ထားလွှာတင်ပြလာခြင်းကိစ္စ**

၁။ **Myanmar Shing Shing Metal Co.,Ltd.** မှ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မော်လမြိုင်မြို့နယ်၊ ညောင်ပင်ဆိပ်ရပ်ကွက်၊ ဦးပိုင်အမှတ် (၃၂၅+၃၂၆+၃၂၇+၃၂၇+၃၂၈+၃၂၉+၃၃၀) ရှိ မြေဧရိယာ (၁.၃၈)ဧက နှင့် ဦးပိုင်အမှတ် (၉၂-က/၂)၊ အကွက်အမှတ် (၃၈၆)၊ ခရုံကရုတ်ကွင်းရှိမြေ (၂.၃၀) ဧက၊ စုစုပေါင်း (၃.၆၈) ဧက တွင် ရာနှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် **ခနောက်စိမ်းသတ္တုသန့်စင်ထုတ်လုပ်ခြင်းလုပ်ငန်း** ဆောင်ရွက်လျက်ရှိပါသည်။

၂။ အဆိုပါလုပ်ငန်းသည် **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA)၊ လူမှု ပတ်ဝန်း ကျင်ထိခိုက်မှုဆန်းစစ်ခြင်း (SIA) နှင့် လူမှုစီးပွားအထောက်အကူပြုလုပ်ငန်း (CSR) တို့နှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း မွန်ပြည်နယ်အစိုးရအဖွဲ့၏ (၂၆-၁၀-၂၀၁၇) ရက် စာအမှတ်၊ ၃၀၀/၂-၆၆/အဖရ (မွန်) (၀၁၉၅) ဖြင့် သဘောထားပြန်ကြားချက်အရ** ခွင့်ပြုချက်ရရှိ လက်ရှိလည်ပတ်ဆောင်ရွက်နေသောလုပ်ငန်းဖြစ်ကြောင်းတွေ့ရှိရပါသည်။

၃။ ကုမ္ပဏီမှ အဆိုပါလုပ်ငန်းအတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) အစီရင်ခံစာအား ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးရုံးချုပ်(နေပြည်တော်)သို့တင်ပြခဲ့သော်လည်း လုပ်ငန်းအရွယ်အစားအရ **ကနဦးပတ်ဝန်း ကျင် ဆန်းစစ်ခြင်း (IEE) အစီရင်ခံစာကိုသာ ပြန်လည်ပြင်ဆင်ရေးဆွဲရန်** ညွှန်ကြားထားကြောင်း တွေ့ရှိရပါသည်။

Memo

**ကန့်သတ်**

၄။ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန၏ ပုဂ္ဂလိကစက်မှုလုပ်ငန်းမှတ်ပုံတင်လက်မှတ် ရရှိထားပြီး ၃၀-၄-၂၀၂၀ ထိ သက်တမ်းရှိကြောင်း တွေ့ရှိရပါသည်။ လျှပ်စစ်အန္တရာယ်ကင်းရှင်းကြောင်းလက်မှတ် ရရှိထားကြောင်း တွေ့ရှိရပါသည်။

၅။ မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးအဖွဲ့မှ ထုတ်ပေးထားသော လိုင်စင်ရရှိထားပြီး(၃၀-၉-၂၀၂၀) ထိ သက်တမ်းရှိကြောင်း တွေ့ရှိရပါသည်။

၆။ အဆိုပါလုပ်ငန်းသည် လက်ရှိလည်ပတ်ဆောင်ရွက်နေပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အမိန့်ကြော်ငြာစာအမှတ်-၈၄/၂၀၁၇ အရ အတည်ပြုမိန့်ရယူလိုသည့်အတွက် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာတင်ပြလာခြင်းပါသည်။

၇။ **Myanmar Shing Shing Metal Co.,Ltd.** သည် ကုမ္ပဏီမှတ်ပုံတင်အမှတ်- 111057893 ဖြင့် ၂၂-၅-၂၀၁၇ ရက်နေ့တွင် မှတ်ပုံတင်ထားသော မြန်မာနိုင်ငံသားကုမ္ပဏီ ဖြစ်ကြောင်း တွေ့ရှိရပါသည်။ ကုမ္ပဏီတွင် ဒါရိုက်တာအစုရှင်(၂)ဦးပါဝင်ပြီး ကုမ္ပဏီ၏အစုရှယ်ယာ ၇၀% ကို လျှောက်ထားသူ ဒေါ်ရတနာလင်းအောင် ပိုင်ဆိုင်ကြောင်း တွေ့ရှိရပါသည်။

၈။ လုပ်ငန်းတည်ရှိသည့် မြေဧရိယာ (၃.၆၈)ဧကအနက် မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မော်လမြိုင်မြို့နယ်၊ ညောင်ပင်ဆိပ် ရပ်ကွက်၊ ဦးပိုင်အမှတ် (၉၂-က/၂)၊ ကွင်းအမှတ် (၃၈၆)၊ ခရုံကရုတ်ကွင်းရှိမြေ (၂.၃၀) ဧကသည် လယ်မြေအား အခြားနည်း အသုံးပြုခွင့် ခွင့်ပြုမိန့်ရရှိထားပြီး ဦးပိုင်အမှတ် (၃၂၅+၃၂၆+၃၂၇+၃၂၈+၃၂၉+ ၃၃၀) ရှိ စက်မှုဇုန်မြေ (၁.၃၈)ဧကသည် မော်လမြိုင်ခရိုင် အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၏ အမှုတွဲ(လ)၁၇/၂၀၁၆/၂၀၁၇ အရ ကုမ္ပဏီ၏ ရှယ်ယာရှင် ဒါရိုက်တာဖြစ်သူ ဒေါ်ရတနာလင်းအောင် မှ ပိုင်ဆိုင်ခွင့်ရရှိထားကြောင်း တွေ့ရှိရပါသည်။

၉။ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ **ကျပ်သန်း ၈၀၀.၀၀၀** ဖြစ်ပြီး အောက်ပါအတိုင်းဖော်ပြထားပါသည်-

| | | | |
|---|---|---|---|
| (က) ငွေသား | - | ကျပ်သန်း | ၁၅၀.၀၀၀ |
| (ခ) အဆောက်အဦတန်ဖိုး | - | ကျပ်သန်း | ၂၀၀.၀၀၀ |
| (ဂ) ရုံးသုံးပစ္စည်းများ | - | ကျပ်သန်း | ၅၀.၀၀၀ |
| (ဃ) စက်ပစ္စည်းကိရိယာ | - | ကျပ်သန်း | ၃၀၀.၀၀၀ |

(င) Web Scrabber - ကျပ်သန်း ၁၀၀.၀၀၀
**စုစုပေါင်း** - ကျပ်သန်း **၈၀၀.၀၀၀**

၁၀။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသက်တမ်းမှာ (၃၀)နှစ် ဖြစ်ပါသည်။

၁၁။ လျှောက်ထားလွှာအရ အောက်ပါအဆောက်အဦများပါရှိကြောင်း ဖော်ပြထားပါသည်-

| | | |
|---|---|---|
| (က) Factory | 106'x185'x30' | ၁ လုံး |
| (ခ) Web Scrubber | 25'x15'x30' | ၁ လုံး |
| (ဂ) Warehouse | 52'x17'x30' | ၁ လုံး |
| (ဃ) Office | 60'x16'x12' | ၁ လုံး |
| (င) Quarters | 86'x16'x12' | ၄ လုံး |
| (စ) Fire Tank | 60'x30' | ၁ လုံး |
| **စုစုပေါင်း** | | **၉ လုံး** |

၁၂။ ထုတ်လုပ်မှုပမာဏမှာ အောက်ပါအတိုင်းဖြစ်ကြောင်း တွေ့ရှိရပါသည်-

| **ထုတ်လုပ်မည့် ပစ္စည်းအမျိုးအစား** | **တစ်နှစ်ထုတ်လုပ်မှု အရေအတွက်(တန်)** | **တစ်တန်ဈေးနှုန်း (US$/တန်)** |
|---|---|---|
| ခနောက်စိမ်း | ၁၀၀ | ၃၆၀၀ |

၁၃။ ဝန်ထမ်းအင်အားမှာ ပြည်တွင်း ဝန်ထမ်း(၅၅)ဦးနှင့် ပြည်ပဝန်ထမ်း (၁၇)ဦး ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အမြင့်ဆုံးလစာမှာကျပ် (၅၀၀၀၀၀ိ/-) နှင့် အနိမ့်ဆုံးလစာ လစာ (၁၈၀၀၀၀ိ/-)ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းအတွက် အမြင့်ဆုံးလစာမှာကျပ် (US$ 600) နှင့် အနိမ့်ဆုံးလစာ လစာ (US$ 400)ဖြစ်ပါသည်။ အခွန်ဥပဒေနှင့်အညီ ပြည်တွင်းဝန်ထမ်းများ ၏ လစာမှ ဝင်ငွေခွန် ကို ကုမ္ပဏီမှ တာဝန်ယူကောက်ခံ ပေးသွင်းသွားမည်ဖြစ်ကြောင်း ကတိဝန်ခံချက် နှင့် ပြည်တွင်းဝန်ထမ်းများအတွက် အနိမ့်ဆုံးလုပ်ခလစာဥပဒေ သတ်မှတ်ချက်နှင့်အညီ သတ်မှတ် ကျခံပေးမည် ဖြစ်ကြောင်း ကတိဝန်ခံချက် ဖော်ပြပါရှိပါသည်။

၁၄။ လုပ်ငန်းအတွက် လျှပ်စစ်ဓါတ်အားလိုအပ်ချက်အတွက် လျှပ်စစ်စွမ်းအင်ဝန်ကြီးဌာနမှ (၃၁၅)KVA Transformer(၁)လုံးနှင့် (၅၀၀) KVA Transformer (၁)လုံး တပ်ဆင်ထားပြီး အရံ မီးစက်အဖြစ် (၃၅၀) KVA မီးစက် (၁) လုံး အသုံးပြုဆောင်ရွက်သွားမည် ဖြစ်ပါသည်။

၁၅။ လုပ်ငန်းအတွက် နှစ်စဉ်စက်သုံးဆီလိုအပ်ချက်မှာဒီဇယ်(၇၀၀) ဂါလန်ဖြစ်ပြီး လုပ်ငန်းသုံးနှင့် မီးဘေးကာကွယ်ရေးအတွက် အဝီစိတွင်း(၂)တွင်း တူးဖော်ဆောင်ရွက်ထားကြောင်း ဖော်ပြပါရှိပါသည်။ စက်ရုံအဆောက်အဦပုံစံ၊ ထုတ်လုပ်မည့်နည်းစနစ်၊ မီးဘေးစီမံချက်နှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်များ တင်ပြထားပါသည်။

၁၆။ လုပ်ငန်းဆောင်ရွက်ရန် အတည်ပြုမိန့်ရရှိပါက သက်ဆိုင်ဌာနများ၏ လမ်းညွှန်ချက်များ၊ တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကတိဝန်ခံချက်ဖော်ပြပါရှိပါသည်။

၁၇။ လုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန** မှ အောက်ပါအတိုင်း စိစစ်၍ သဘောထားပြန်ကြား ထားပါသည် - **(နောက်ဆက်တွဲ-က)**

(က) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးရုံးချုပ်(နေပြည်တော်)မှ (၁၀.၈.၂၀၁၈) ရက်စွဲပါ စာအမှတ်၊ အီးအိုင်အေ-၁/၄က (၉၇၁/၂၀၁၈) ဖြင့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) အစီရင်ခံစာအား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း (၂၀၁၅)၊ အပိုဒ်(၃၅)၊ (၃၆) နှင့်အညီ **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE) အစီရင်ခံစာအဖြစ် ပြန်လည်ပြင်ဆင်ရေးဆွဲရန်** အကြောင်းပြန်ကြားပြီး မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ (၂၉-၄-၂၀၁၉) ရက်စွဲပါ စာအမှတ်၊ ၅၀၃/ကကရ(လ)/၂၀၁၉ ဖြင့် သဘောထားပြန်ကြားထားခြင်းအပေါ် အမြန်ဆုံးရေးဆွဲ၍ မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ (၂-၇-၂၀၂၀) နောက်ဆုံးထားကာ အစီရင်ခံစာကို တင်ပြသွားရန်၊

(ခ) စက်ရုံအတွင်း ကုန်ကြမ်း/ချောများကို အမိုးအကာများဖြင့် စနစ်တကျထားသိုသိမ်းဆည်းရန်၊ ပျံ့လွင့်မှု/စီးမျောမှု မရှိစေရေးနှင့် ဝန်းကျင်လေထု/ရေထု/မြေထု ထိခိုက်မှုမရှိစေရေး စီမံထားရှိရန်နှင့် နေ့စဉ်သန့်ရှင်းရေးဆောင်ရွက်ရန်၊ ခနောက်စိမ်း သတ္တုရိုင်းကုန်ကြမ်းများကို သယ်ဆောင်ရာတွင် အမိုးအကာများဖြင့် စနစ်တကျ ဖုံးအုပ်ထားရှိရန်၊

(ဂ) စက်ရုံလည်ပတ်ဆောင်ရွက်ခြင်းမှ ထွက်ရှိလာမည့် အမှုန်အမွှား၊ စွန့်ပစ်ပစ္စည်းများ (အစိုင်၊ အခဲ၊ အရည်၊ အခိုးအငွေ့)၊ ဘေးအန္တရာယ်ရှိ စွန့်ပစ်ပစ္စည်းများ၊ ဓာတု

စွန့်ပစ်ပစ္စည်းများနှင့် အခြားစွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုများမဖြစ်ပေါ်စေရေး ပတ်ဝန်းကျင်အရည်အသွေးစံချိန်စံညွှန်းများနှင့်အညီ သတ်မှတ်ချက်များအတိုင်း သန့်စင်ခြင်း၊ ထုတ်လွှတ်ခြင်း၊ ဖျက်ဆီးခြင်းနှင့် စွန့်ပစ်ခြင်းများ ဆောင်ရွက်ရန်၊

(ဃ) ဓာတုပစ္စည်းများ၊ ညစ်ညမ်းပစ္စည်းများနှင့် ဘေးအန္တရာယ်ရှိပစ္စည်းများကို စနစ်တကျ သယ်ယူပို့ဆောင်ခြင်း၊ သိုလှောင်ခြင်း၊ အသုံးပြုခြင်း၊ သန့်စင်ခြင်းနှင့် စွန့်ပစ် ခြင်းများ ဆောင်ရွက်ရန်၊

(င) စွန့်ပစ်ရေအား ပြန်လည်သန့်စင်သည့်စနစ် ( Waste Water Treatment System) ထည့်သွင်းတည်ဆောက်ပြီး သတ်မှတ်ချက်များနှင့်အညီ သန့်စင်ပြီးမှသာ စွန့်ပစ်ဆောင်ရွက်ရန်၊

(စ) အနံ့အသက်များ/မီးခိုးများကြောင့် လေထုသန့်စင်စနစ်ထားရှိရန်၊ ပုံမှန်သန့်စင်ဆောင်ရွက်သွားရန်၊ Exhaust Fan များ တပ်ဆင်ရန်၊ ထုတ်လွှတ်မည့် အခိုးအငွေ့များကို စနစ်တကျထိန်းချုပ်သန့်စင်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေမရှိစေသည့် အဆင့်သို့ ရောက်မှသာ ထုတ်လွှတ်ရန်၊

(ဆ) စက်ရုံလည်ပတ်ချိန်အား အချိန်စာရင်ဇယားများ ရေးဆွဲထားရှိရန်၊ စက်ရုံလည်ပတ်မှုရပ်နားမည်ဆိုပါက စက်မှုဇုန်စီမံခန့်ခွဲရေးကော်မတီနှင့် သက်ဆိုင်ရာဌာနများသို့ အသိပေးတင်ပြရန်၊

(ဇ) ဓာတ်အားပြတ်တောက်မှုမရှိစေရန် ကြိုတင်စီမံထားရှိရန်၊

(ဈ) ဓာတ်ငွေ့ယိုစိမ့်မှုမရှိစေရေး စောင့်ကြပ်ကြည့်ရှုရန်၊

(ည) ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်များ ဆောင်ရွက်ရန်၊

(ဋ) စိမ်းလန်းစိုပြေရေးအစီအစဉ်များ ဆောင်ရွက်သွားရန်၊

(ဌ) CSR များ ဆောင်ရွက်ရန်နှင့် ဒေသဖွံ့ဖြိုးရေးလုပ်ငန်းများတွင် ပူးပေါင်းပါဝင်ဆောင်ရွက်ရန်၊

(ဍ) မီးဘေးစီမံချက်များထားရှိဆောင်ရွက်သွားရန်၊

(ဃ) ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများရယူ၍ အသိပေးရှင်းလင်းပွဲများ မကြာခဏ လုပ်ဆောင်သွားရန်၊

(ဏ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ အခါအားလျော်စွာ စစ်ဆေးမှုများအစစ် ဆေး ခံနိုင်ရေး ဆောင်ရွက်ထားရှိစေရန်၊

(တ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်း၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းနှင့်အညီ လိုက်နာကျင့်သုံး အကောင် အထည်ဖော် ဆောင်ရွက်သွားရန်၊

(ထ) ညစ်ညမ်းမှုဖြစ်ပေါ်ပါက ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေပုဒ်မ (၁၄)နှင့် (၁၅)တို့ တွင် ဖော်ပြထားသည့် ပြဋ္ဌာန်းချက်များ လိုက်နာဆောင်ရွက်သွားရန်၊

(ဒ) ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်မည့် နည်းလမ်းများကို အကောင်အထည် ဖော်ဆောင်ရွက်သွားရန်၊

၁၈။ အဆိုပါလုပ်ငန်းနှင့်ပတ်သက်ပြီး အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည် -

(က) Myanmar Shing Shing Metal Co., Ltd. သည် ခနောက်စိမ်းသတ္တုထုတ်လုပ် ခြင်းလုပ်ငန်းအား သက်ဆိုင်ရာလုပ်ငန်းလိုင်စင်ဖြင့် ၂၀၁၇-၂၀၁၈ ဘဏ္ဍာနှစ်မှ စတင်ဆောင်ရွက်ခဲ့ပြီး ၂၀၁၉-၂၀၂၀ဘဏ္ဍာနှစ်ထိ သက်တမ်းရှိကြောင်း တွေ့ရှိရ ပါသည်။

(ခ) ဝင်ငွေရရှိနေသောလုပ်ငန်းအဟောင်းဖြစ်သဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အမိန့်ကြော်ငြာစာအမှတ် ၈၄/၂၀၁၇ အရ အခွန်ကင်းလွတ်သက်သာခွင့်များရရှိမည် မဟုတ်ဘဲ အတည်ပြုမိန့်ရရှိရန်အတွက်သာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၇ နှင့်အညီ အတည်ပြုလျှောက်ထားလွှာတင်ပြလာခြင်းဖြစ်ပါသည်။

(ဂ) အစိုးရပိုင်မြေ/အဆောက်အဦအား အသုံးပြုထားမှုမရှိခြင်း၊ ရင်းနှီးမြှုပ်နှံမှုပမာဏ ကျပ်သန်း ၆၀၀၀ အောက်တွင်ရှိ ခြင်း၊ EIA ရေးဆွဲရန်လိုအပ်သော လုပ်ငန်း မဟုတ်ခြင်းများကြောင့် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီမှ ဆုံးဖြတ်နိုင်ပြီး အတည်ပြုမိန့်ထုတ်ပေးနိုင်သော လုပ်ငန်းဖြစ်ပါသည်။

(ဃ) အတည်ပြုမိန့်ရရှိပါက ကုမ္ပဏီအနေဖြင့် သက်ဆိုင်ဌာနများ၏ လမ်းညွှန်ချက်များ၊ တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကတိဝန်ခံမှုပြုထားပါသည်။

(င) နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂% ကို လူမှုရေးဆိုင်ရာတာဝန်ယူမှု (Corporate Social Responsibility-CSR)အဖြစ် သတ်မှတ်ဆောင်ရွက်မည်ဖြစ်ရာ ဒေသဖွံ့ဖြိုးတိုးတက်မှုအတွက် တစ်ဖက်တစ်လမ်းမှ ဆောင်ရွက်သွားစေနိုင်မည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၉။ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မော်လမြိုင် မြို့နယ်၊ ညောင်ပင်ဆိပ်ရပ်ကွက်၊ ဦးပိုင်အမှတ် (၃၂၅+၃၂၆+၃၂၇+၃၂၇+၃၂၈+၃၂၉+၃၃၀) ရှိ မြေဧရိယာ (၁.၃၈)ဧက နှင့် ဦးပိုင်အမှတ် (၉၂-က/၂)၊ အကွက်အမှတ်(၃၈၆)၊ ခရုံကရုတ်ကွင်းရှိမြေ (၂.၃၀) ဧက၊ စုစုပေါင်း (၃.၆၈)ဧကတွင် ရာနှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် **ခနောက်စိမ်းသတ္တုသန့်စင်ထုတ်လုပ်ခြင်းလုပ်ငန်း** ဆောင်ရွက်နေသော **Myanmar Shing Shing Metal Co.,Ltd.** မှ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာတင်ပြလာခြင်းအား **အတည်ပြုမိန့်** ထုတ်ပေး ရန် သဘောတူ-မတူ။

အတွင်းရေးမှူး(ကိုယ်စား)
(စောလင်းအောင်၊ ဒုတိယညွှန်ကြားရေးမှူး)

မိတ္တူကို
ရုံးလက်ခံ




ညွှန် ကြား ရေး မှူး ရုံး
ပတ် ဝန်း ကျင် ထိန်းသိမ်း ရေးဦးစီးဌာန
မွန် ပြည် နယ် ၊ မော် လ မြိုင် မြို့
စာအမှတ်၊ ၄၈၅ /အီးအိုင်အေ / ၂၀၂၀
ရက်စွဲ၊၂၀၂၀ခုနှစ်၊ ဇန်နဝါရီလ၊ ၇ ရက်

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီရုံး
(ဝင်စာမှတ်ပုံတင်)
အမှတ်စဉ် ၀၀၄
ရရှိရက်စွဲ ၉-၁-၂၀၂၀
ရရှိအချိန် ၁၀:၀၀ နာရီ
လက်ခံသူလက်မှတ်

သို့

✓ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
မွန်ပြည်နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်အကြောင်းပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၁၈.၁၂.၂၀၁၉) ရက်စွဲပါစာအမှတ်၊ မရက/၄/နသေ/၂၀၁၉(၀၃၉)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Myanmar Shing Shing Metal Co.,Ltd မှ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မော်လမြိုင်မြို့နယ်၊ ညောင်ပင်ဆိပ်ရပ်ကွက်၊ ဦးပိုင်အမှတ် (၃၂၅+၃၂၆+၃၂၇+၃၂၈+၃၂၉+၃၃၀)ရှိ မြေဧရိယာ (၁.၃၈)ဧကနှင့် ဦးပိုင်အမှတ်(၉၂-က/၂)၊ အကွက်အမှတ် (၃၈၆)၊ ခရုံကရုတ်ကွင်းရှိ မြေဧရိယာ(၂.၃၀)ဧက၊ စုစုပေါင်းမြေဧရိယာ (၃.၆၈)ဧကပေါ်တွင် ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ခနောက်စိမ်းသတ္တုသန့်စင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ လျှောက်ထားတင်ပြလာခြင်းအပေါ် ကော်မတီမှ အဆိုပါလုပ်ငန်းနှင့်ပတ်သက်၍ပတ်ဝန်းကျင်ဆိုင်ရာသဘောထားမှတ်ချက်ပေးနိုင်ပါရန် မွန်ပြည်နယ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ Myanmar Shing Shing Metal Co.,Ltdမှအဆိုပြုတင်ပြလာသောခနောက်စိမ်းသတ္တုသန့်စင် ထုတ်လုပ်ခြင်းလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) အဆိုပါ လုပ်ငန်းအတွက် ဌာနမှ (၂၃.၁၁.၂၀၁၇) ရက်စွဲပါ စာအမှတ် (၁၂၉၉/ကကရ/၂၀၁၇)ဖြင့် ပထမအကြိမ် ပတ်ဝန်းကျင်ဆိုင်ရာ သဘောထားမှတ်ချက်ပြန်ကြားထားပြီး (၂၉.၄.၂၀၁၉) ရက်စွဲပါစာအမှတ် (၅၀၃/ကကရ(လ)/၂၀၁၉)ဖြင့် ၂၀၁၉-၂၀၂၀ ဘဏ္ဍာနှစ် စက်မှုမှတ်ပုံတင်လက်မှတ် သက်တမ်းတိုး လျှောက်ထားခြင်းအတွက် ဒုတိယအကြိမ် ပတ်ဝန်းကျင်ဆိုင်ရာသဘောထားမှတ်ချက်ပြန်ကြားထားကြောင်း၊

(ခ) ဌာနမှ ပထမအကြိမ်သဘောထားပြန်ကြားစာတွင် ခနောက်စိမ်းသတ္တုသန့်စင်စက်ရုံလည်ပတ်ဆောင်ရွက်ခြင်းအတွက်ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) အစီရင်ခံစာရေးဆွဲတင်ပြရမည်ဟုဖော်ပြပါရှိခဲ့ခြင်းအပေါ် ကုမ္ပဏီမှ (၃၀.၁၀.၂၀၁၇)ရက်စွဲပါစာဖြင့်(EIA) အစီရင်ခံစာတင်ပြခဲ့ပြီး ဦးစီးရုံးချုပ်(နေပြည်တော်)မှ (၁၀.၈.၂၀၁၈)ရက်စွဲပါစာအမှတ်၊ အီးအိုင်အေ-၁/၄က(၉၇၁/၂၀၁၈)ဖြင့် စိစစ်ပြန်ကြားရာတွင်(EIA)

အစီရင်ခံစာအား ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း(IEE)အစီရင်ခံစာအဖြစ် ပြန်လည်ပြုစုတင်ပြရန် အကြောင်းကြားခဲ့ပြီးဖြစ်ကြောင်း၊

(ဂ) မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ဒုတိယအကြိမ် သဘောထားပြန်ကြားစာအပိုဒ်၂(က)တွင်လည်း ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း အစီရင်ခံစာအား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း(၂၀၁၅) အပိုဒ်(၃၅)၊(၃၆) နှင့်အညီကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း(IEE)အစီရင်ခံစာအဖြစ် ပြန်လည်ပြင်ဆင်ရေးဆွဲပြီး မွန်ပြည်နယ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ ဆောလျင်စွာ တင်ပြသွားရန်ဟုထည့်သွင်းရေးသားထားကြောင်း၊

(ဃ) စက်ရုံတွင် လိုအပ်သော အဆောက်အဦများအဖြစ် Factory (106'×185'×30') (၁)လုံး၊ Web Scrubber (25'×15'×30') (၁)လုံး၊ Warehouse (52'×17'×30') (၁)လုံး၊ Office (60'×16'×12') (၁)လုံး၊ Quarters (86'×16'×12') (၁)လုံး၊ Fire Tank (60'×30') တို့ တည်ဆောက်ထားကြောင်း၊

(င) ရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ်သန်း(၈၀၀)ဖြစ်ပြီး လိုအပ်သောခနောက်စိမ်းကုန်ကြမ်းများကို မွန်ပြည်နယ်၊ ကျိုက်မရောမြို့နယ်ရှိ ရှိန်းရတနာခနောက်စိမ်းတူးဖော်ရေး လုပ်ကွက်နှင့် မွန်ပြည်နယ်/ကရင်ပြည်နယ်အတွင်းမှ တစ်လလျှင်တန်ချိန်(၁၅၀)ခန့်ဝယ်ယူမည်ဖြစ်ကြောင်းနှင့် နှစ်စဉ် ခနောက်စိမ်းတန်(၁၀၀)ဝန်းကျင်အား တင်ပို့ရောင်းချမည်ဖြစ်ကြောင်း၊

(စ) စက်ရုံတွင် လိုအပ်သော လျှပ်စစ်ဓာတ်အားအတွက် (၃၁၅)ကေဗွီအေ ထရန်စဖော်မာ တစ်လုံးနှင့်(၅၀၀)ကေဗွီအေထရန်စဖော်မာတစ်လုံးတပ်ဆင်ထားပြီးအရံလျှပ်စစ်အဖြစ် (၃၅၀) ကေဗွီအေ မီးစက်တစ်လုံးထားရှိကြောင်း၊

(ဆ) လုပ်ငန်းအတွက် လိုအပ်သော စက်သုံးဆီပမာဏမှာ တစ်လလျှင် ဂါလန် (၇၀၀)ခန့်ရှိကြောင်းနှင့်လိုအပ်သောရေပမာဏမှာတစ်လလျှင်ဂါလန်(၁၀၀၀)ခန့်ရှိကြောင်း၊အဆိုပါ လိုအပ်သောရေအတွက် အတ္တရံမြစ်အတွင်းမှ သွယ်တန်းရယူပြီး အဝီစိတွင်း(၂)တွင်းမှ ချိုးရေ/သုံးရေရယူသုံးစွဲမည်ဖြစ်ကြောင်း၊

(ဇ) စက်ရုံတွင် ပြည်တွင်းဝန်ထမ်း(၅၅)ဦး (ကျား-၅၀ဦး၊မ-၅)နှင့် ပြည်ပဝန်ထမ်း(၁၇)ဦး ခန့်အပ်ထားရှိမည်ဖြစ်ကြောင်း၊

(ဈ) စက်ရုံလည်ပတ်ဆောင်ရွက်ပုံအဆင့်ဆင့်မှာ-

(၁) မီးဖုတ်ခန်းတွင် သတ္တုမြေစာများအား ကုတ်မီးသွေးအသုံးပြုမီးရှို့အပူပေးခြင်း၊ မီးလောင်ပြီးသတ္တုမြေစာမှုန့်နှင့်မီးခိုးအမှုန့်များအား BLOWER ဖြင့် အနည်ထိုင်ခန်းသို့လေမှုတ်သွင်းခြင်း၊

(၂) သတ္တုမြေစာမှုန့်နှင့်မီးခိုးအမှုန့်များအား ရေအေးအပြည့်ထည့်ထားသော အပူလျှော့ရေကန်ကိုဖြတ်၍ ပိုက်များအတိုင်း အနည်ထိုင်ခန်းသို့ရောက်ရှိပြီး ထိုအခန်းတွင်လေပွေသဏ္ဍာန်ဖြတ်သန်း၍ ချည်အိတ်ခန်းသို့ရောက်ရှိခြင်း၊

(၃) ချည်အိတ်ခန်းတွင် သတ္တုမြေစာမှုန့်နှင့်မီးခိုးအမှုန့်များအား ပိတ်ချည်များဖြင့်ဖမ်းယူရန် BLOWER ဖြင့်လေမှုတ်သွင်းပြီး အမှုန်အမွှားမရှိသော အခိုးအငွေ့များကိုသန့်စင်ခန်း(ထုံးရေဖြန်းခန်း)သို့ BLOWER ဖြင့်ဆက်လက်လေမှုတ်သွင်းခြင်း၊

(၄) သန့်စင်ခန်းတွင်ဓာတ်ငွေ့များသန့်စင်စေရန်ထုံးရေပက်ဖြန်းခြင်းတို့ဖြစ်ကြောင်း။

(ည) စက်ရုံပြုပြင်ရေးကိစ္စများဆောင်ရွက်နိုင်ရေး (၄.၁၀.၂၀၁၉)ရက်နေ့မှစ၍ ခေတ္တရပ်နားထားပြီး (၁၅.၁၂.၂၀၁၉)ရက်နေ့တွင် ပြန်လည်လည်ပတ်နိုင်ရန် စီစဉ်ထားရှိသည်ကို (၂.၁၂.၂၀၁၉)ရက်စွဲပါစာဖြင့် ကုမ္ပဏီမှ ဌာနသို့ တင်ပြထားရှိကြောင်း။

၃။ Myanmar Shing Shing Metal Co.,Ltdမှအဆိုပြုတင်ပြလာသောခနောက်စိမ်းသတ္တုသန့်စင်ထုတ်လုပ်ခြင်းလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သုံးသပ်ရပါသည်-

(က) ခနောက်စိမ်းသတ္တုအမှုန်အမွှားများ လေထုထဲတွင် ပါဝင်နှုန်းမြင့်မားနေပါက လူနှင့်သက်ရှိများကို ထိခိုက်နိုင်ပြီး မျက်စိ၊ အရေပြားနှင့် အဆုတ်တို့ကို ပျက်ဆီးစေခြင်း၊ အပြင်အဆုတ်ရောဂါ၊ နှလုံးရောဂါ၊ ဝမ်းရောဂါ၊ အစာအိမ်အူလမ်းကြောင်းရောဂါများဖြစ်ပေါ်စေနိုင်ကြောင်း၊

(ခ) ယခုဆောင်ရွက်မည့်လုပ်ငန်းတွင် ခနောက်စိမ်းသတ္တုအမှုန်အမွှားများ ထွက်ရှိနိုင်ပြီးလေထုညစ်ညမ်းကာ စက်ရုံလုပ်သားများ၏ ကျန်းမာရေးနှင့် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းနှင့်အများဖြစ်ပေါ်နိုင်သောကြောင့်လေထုညစ်ညမ်းမှုထိန်းချုပ်မည့် နည်းစနစ်များထည့်သွင်းဆောင်ရွက်ရန်နှင့်စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုစီမံချက်ထားရှိရန် လိုအပ်ပြီးခနောက်စိမ်းသတ္တုရိုင်းကုန်ကြမ်းများကို စနစ်တကျသိုလှောင်ထားခြင်း၊ စုပုံထားခြင်းမရှိပါက မြေထုနှင့်ရေထုညစ်ညမ်းမှုများဖြစ်ပေါ်နိုင်သဖြင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်အောင်ဆောင်ရွက်ရန်လိုအပ်ပါကြောင်း၊

(ဂ) စက်ရုံလည်ပတ်ဆောင်ရွက်ခြင်းမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း(အစိုင်အခဲ၊ အရည်၊ အခိုးအငွေ့)များ၊ဘေးအန္တရာယ်ရှိစွန့်ပစ်ပစ္စည်းများ၊ဓာတုစွန့်ပစ်ပစ္စည်းများနှင့်အခြားစွန့်ပစ်ပစ္စည်းများကို ပတ်ဝန်းကျင်အရည်အသွေးစံချိန်စံညွှန်းများနှင့်အညီသတ်မှတ်ချက်များအတိုင်း သန့်စင်ခြင်း၊ ထုတ်လွှတ်ခြင်း၊ ဖျက်ဆီးခြင်းနှင့် စွန့်ပစ်ခြင်းများဆောင်ရွက်ရန်လိုအပ်ကြောင်း၊

(ဃ) စက်ရုံမှစွန့်ပစ်ရေများကို ကန်/မြစ်/ချောင်း/မြောင်း စသည်ထဲသို့ တိုက်ရိုက်စွန့်ထုတ်ခြင်းများမပြုလုပ်သင့်ကြောင်းနှင့် ထုတ်လွှတ်အခိုးအငွေ့များကို စနစ်တကျ ထိန်းချုပ်

